ကုမ္ပဏီအမည် - ဂရန်း(ဒ်)ဟဲသာ ကုမ္ပဏီလီမိတက်

လုပ်ငန်း - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခုတင်(၇၀၀)ဆံ့ ပုဂ္ဂလိကဆေးရုံ ဝန်ဆောင်မှုလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိ သည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၇-၃-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၁၁/၂၀၁၆ သို့တင်ပြခြင်း | ၁၄-၃-၂၀၁၆ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၂-၃-၂၀၁၆ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ပကြိမ်) | ၁၅-၃-၂၀၁၆ | | |
| | (ဒုကြိမ်) | ၇-၄-၂၀၁၆ | ၁၀-၁၀-၂၀၁၆ | |
| | (ခ) ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန | ၁၅-၃-၂၀၁၆ | ၂၄-၃-၂၀၁၆ | |
| | (ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၅-၃-၂၀၁၆ | ၂၈-၃-၂၀၁၆ | |
| | (ဃ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၁၅-၃-၂၀၁၆ | ၂၈-၃-၂၀၁၆ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၅-၇-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၅-၁၀-၂၀၁၆ | | |
| ၈ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း(၂၀/၂၀၁၆) MIC | ၂၈-၁၀-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၂၁၄ ရက်** | | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | ဂရန်း(ဒ်)ဟံသာ ကုမ္ပဏီ လီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ခုတင်(၇၀၀)ဆံ့ ပုဂ္ဂလိကဆေးရုံ ဝန်ဆောင်မှုလုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ယုဇနလမ်း၊ အမှတ်(၃) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၆၃,၀၀၀သန်း (US$ ၃၁.၁၃ သန်း အပါအဝင်) |
| ဝန်ဆောင်မှုပေးမည့်စနစ် | - | ပြည်တွင်းဝန်ဆောင်မှု ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ်( သက်တမ်းတိုး ၁၀ နှစ်၊ နှစ်ကြိမ်) |
| အရင်းကြေကာလ | - | ၅ နှစ် ၁ လ |
| IRR | - | ၁၈% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည် -

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၁.၁၇ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁,၂၀၆.၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၀,၅၂၅.၃၁ သန်း | ကျပ် ၃၇,၁၄၉.၆၇ သန်း |
| ၅ | လောင်စာဆီ | | ကျပ် ၁,၀၅၉.၂၂ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၉,၆၉၀.၀၀ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်း ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၃၆၅) ဦး |
| ၈ | မြေနှင့်အဆောက်အဦး ငှားရမ်းခရငွေ | | - |
| ၉ | CSR ( %) | | ကျပ် ၃,၀၇၁.၀၂ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁,၂၁၀ ဦး |
| | | | ပြည်တွင်းလုပ်သား (၁,၂၁၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ် အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | ကျပ် ၁၁,၇၃၄.၃၁ သန်း | ကျပ် ၅၀,၉၇၁.၀၈ သန်း |
| | | ၁:၄ | |

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဂရန်း(ဒ်)ဟံသာ ကုမ္ပဏီလီမိတက် မှ
ခုတင်(၇၀၀)ဆံ့ပုဂ္ဂလိကဆေးရုံ ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်
အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍
PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | **ဂရန်း(ဒ်)ဟံသာ ကုမ္ပဏီလီမိတက်** | **ပုဂ္ဂလိကဆေးရုံ လုပ်ငန်း** | ၁၀/၂၀၁၆<br>၁၄-၃-၂၀၁၆ | (က)လုပ်ငန်းအမည်အား ပြန်လည်စိစစ်တင်ပြရန်<br>(ခ) စက်ပစ္စည်းများအား ပြည်တွင်းဝယ်၊ ပြည်ပဝယ်ခွဲခြား တင်ပြရန်<br>(ဂ) ပြည်ပမှ တင်သွင်းမည့် မော်တော်ယာဉ် အမျိုးအစားများ တင်ပြရန် | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | |

## မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဂရန်း(ဒ်)ဟံသာ ကုမ္ပဏီလီမိတက်မှ ခုတင်(၇၀၀)ဆံ့ ပုဂ္ဂလိကဆေးရုံ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဂရန်း(ဒ်)ဟံသာ ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်ခင်ဌေးလင်း (အဘ- ဦးတော်မီလင်း(ခ) ဦးထိန်လင်း)<br>- ဒါရိုက်တာ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ခုတင်(၇၀၀)ဆံ့ ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်း |
| ၅။ | လုပ်ငန်းနေရာ<br><br>မြေအကျယ်အဝန်း<br>အဆောက်အဦအကျယ်အဝန်း<br>မြေပိုင်ရှင် | - အမှတ်- ၁၊ ယုဇနလမ်း၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊<br>- (၁.၇၉၄)ဧက<br>- (၈)ထပ်တိုက် အဆောက်အဦ (၂၁၅,၀၅၁ စတုရန်းပေ)<br>- ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက် |
| ၆။ | မတည်ရင်းနှီးငွေပမာဏ | **- ကျပ် ၆၃,၀၀၀.၀၀ သန်း(အမေရိကန်ဒေါ်လာ ၃၁.၁၃ သန်း အပါအဝင်)** |

| ထည့်ဝင်မည့်အမျိုးအစား | ကျပ်(သန်း) | US$(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၄၉၅.၇၀၉ | - | ၄၉၅.၇၀၉ |
| ဆောက်လုပ်ရေးပစ္စည်း | ၉၀၀.၀၀၀ | ၂.၉၀၂ | ၄,၆၇၃.၇၃၇ |
| စက်ပစ္စည်းတန်ဖိုး (M&E)(I) | ၃၅၉.၅၄၇ | ၇.၆၈၇ | ၁၀,၃၅၂.၇၂၉ |
| စက်ပစ္စည်းတန်ဖိုး (M&E)(II) | - | ၁၆.၀၀၃ | ၂၀,၈၀၅.၁၀၇ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | - | ၂.၀၁၀ | ၂,၆၁၃.၈၈၁ |
| မော်တော်ကား | - | ၁.၂၇၀ | ၁,၆၅၁.၀၀၀ |
| ဓါတ်ခွဲခန်းသုံးပစ္စည်းကိရိယာများ | - | ၁.၂၅၅ | ၁,၆၃၂.၅၃၀ |
| အဆောက်အအုံတန်ဘိုး | ၂၀,၇၇၅.၃၀၄ | - | ၂၀,၇၇၅.၃၀၄ |
| စုစုပေါင်း | ၂၂,၅၃၀.၅၆၁ | ၃၁.၁၃၀ | ၆၃,၀၀၀.၀၀၀ |

| | | |
|---|---|---|
| ၇။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၈။ | ဝန်ဆောင်မှု (ဆဋ္ဌမမြောက်နှစ်)<br>ဝန်ဆောင်မှုအမျိုးအစား | - ပူးတွဲဇယားဖြင့် ဖော်ပြထားပါသည်။ |
| ၉။ | ကုမ္ပဏီ၏(ဆဋ္ဌမမြောက်နှစ်)<br>ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | <br>ကျပ် ၃၈,၃၅၇.၁၈ သန်း<br>ကျပ် ၂၂,၉၁၇.၃၈ သန်း<br>ကျပ် ၁၅,၄၃၉.၈၀ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်<br>(ဆဋ္ဌမမြောက်နှစ်)<br>အကျိုးအမြတ်<br>ဝင်ငွေခွန် | <br><br><br>- ကျပ် ၅,၁၄၆.၆၀ သန်း |

| | | |
|---|---|---|
| ၁၁။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၁,၂၁၀ ဦး(ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာ မှာကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာ မှာ ကျပ် ၁,၁၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ပြည်ပ ခန့်ထားခြင်းမရှိပါ။ |
| ၁၂။ | အရင်းကြေကာလ | - ၅ နှစ် ၁ လ |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၈% |
| ၁၄။ | ငွေကြေးအထောက်အထား | - ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်ကုမ္ပဏီ အမည်ဖြင့် (၇-၃-၂၀၁၆) ရက်စွဲဖြင့် ရောဝတီဘဏ်၌ ကျပ် ၃,၁၄၆,၅၁၀.၇၃ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ % အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက် ရေးဆွဲ တင်ပြ ထားပါသည်။ |
| ၁၇။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၅,၅၂၀,၀၀၀ Unit |
| ၁၈။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးအစီအစဉ် | - (Initial Environmental Examination-IEE) and (Environmental Management Plan-EMP) အား Green Enviro Services Ltd နှင့် လုပ်ငန်းအပ်နှံဆောင်ရွက်လျက် ရှိကြောင်း တင်ပြထားပါသည်။) |
| ၁၉။ | အခြားတင်ပြချက်များ | - ဆောက်လုပ်ရေးဝန်ကြီးဌာနမှ Hiway Complex အိမ်ရာ စီမံကိန်းအတွက် ယုဇနဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ငွေအကြေပေးသွင်းပြီး ဖြစ်ပါကြောင်း နှင့် ပုဂ္ဂလိကဆေးရုံ ပြုလုပ် မည့်မြေနေရာအား မြေငှားဂရန် လျှောက်ထားဆဲဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

| ဝန်ဆောင်မှုအမျိုးအစား | အရေအတွက် | ပူးတွဲ နှုန်းထား(ကျပ်) |
|---|---|---|
| Emergency | ၂၀,၉၀၀ | ၁၅,၀၀၀ |
| MRI | ၄,၂၀၀ | ၁၇၀,၀၀၀ |
| CT | ၉,၀၀၀ | ၈၀,၀၀၀ |
| X-Ray(2) | ၂၄,၀၉၀ | ၁၂,၀၀၀ |
| Dexa Scan | ၃,၀၀၀ | ၂၅,၀၀၀ |
| Mammogram | ၃,၀၀၀ | ၂၂,၀၀၀ |
| USG(2) | ၁၉,၈၀၀ | ၇,၀၀၀ |
| ECG(2) | ၃၉,၀၀၀ | ၄,၅၀၀ |
| ECHO | ၈,၇၀၀ | ၁၅,၀၀၀ |
| Stress Test | ၄,၅၀၀ | ၇,၀၀၀ |
| Dental CT | ၂,၄၀၀ | ၅၀,၀၀၀ |
| Outpatient Clinics | ၇၆၆,၂၀၀ | ၄,၅၀၀ |
| ENT Clinics | ၁၀,၅၀၀ | ၇,၀၀၀ |
| Dental Clinic | ၁၀,၅၀၀ | ၇,၀၀၀ |
| Eye Clinic | ၁၉,၈၀၀ | ၆,၀၀၀ |
| Skin | ၈,၇၀၀ | ၁၅,၀၀၀ |
| Rehabilitation | ၁၂,၀၀၀ | ၇,၀၀၀ |
| Endoscopy Suite | ၄,၅၀၀ | ၅၀,၀၀၀ |
| Dialysis Center | ၁၄,၆၀၀ | ၃၀,၀၀၀ |
| Oncology Center | ၁၀,၅၈၅ | ၁၀,၀၀၀ |
| Linear Accelerator | ၇,၂၀၀ | ၁၃၀,၀၀၀ |
| OT | ၃၇,၅၀၀ | ၉၀,၀၀၀ |
| Birth Unit | ၂,၇၀၀ | ၄၀,၀၀၀ |
| Catheterization | ၁,၈၀၀ | ၁,၃၀၀,၀၀၀ |
| Lithotripsy Suite | ၂,၄၀၀ | ၁၅၀,၀၀၀ |
| Intensive Care Unit | ၁၃,၁၄၀ | ၉၀,၀၀၀ |
| Cardiac Care Unit | ၇,၆၆၅ | ၇၀,၀၀၀ |
| High Dependency | ၅,၁၁၀ | ၄၀,၀၀၀ |
| LAB SAMPLE | ၁,၆၄၂,၅၀၀ | ၅,၀၀၀ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက - ၅(အ)/မ-၀၁၂/၂၀၁၆(၅၀၃.၈)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဂရန်း(ဒ်)ဟံသာ ကုမ္ပဏီလီမိတက် မှ ခုတင်(၇၀၀)ဆံ့ ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်းအား လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ယုဇနဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ဝယ်ယူထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ယုဇနလမ်း၊ အမှတ်(၃)၊ (၈)ထပ်တိုက် အမှတ်(F) ရှိ ၂၀၅, ၀၅၁. ၇၅ စတုရန်းပေပေါ်တွင် Grand Specialist Hospital အမည်ဖြင့် ခုတင်(၇၀၀)ဆံ့ ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်း အား မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန မှ ၂၀၁၆ ခုနှစ် ဧပြီလ ၁ ရက်နေ့ ရက်စွဲဖြင့် Hiway Complex အိမ်ရာစီမံကိန်းအတွက် ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ငွေအကြေပေးသွင်းပြီး ဖြစ်ပါကြောင်းနှင့် ပုဂ္ဂလိကဆေးရုံ ပြုလုပ်မည့် မြေနေရာအား မြေငှားဂရန် လျှောက်ထားဆဲဖြစ်ပါကြောင်း တင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း၊ ပုံစံ-၆၊ ပုံစံ-၂၆၊ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် ယုဇနဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၊ ACE ဆောက်လုပ်ရေးအဖွဲ့ တို့အကြား ချုပ်ဆိုထားသည့် Hiway Complex Project လုပ်ငန်းဆောင်ရွက်မှု သဘောတူစာချုပ် ၊ ယုဇနဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် အနေဖြင့် ပိုင်ဆိုင်ခွင့်ရရှိထားသော အဆောက်အဦနှင့်မြေကို ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့် ခုတင်(၇၀၀)ဆန့်ဆေးရုံတွင် ရင်းနှီးမြှုပ်နှံမည့် အစည်းအဝေးမှတ်တမ်းတို့အား တင်ပြထားပါသည်။

၄။ လုပ်ငန်း၏သက်တမ်းကာလမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၁)နှစ် ကြာမြင့်မည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၃၁.၁၃ သန်း အပါအဝင် ကျပ် ၆၃,၀၀၀.၀၀ သန်း ဖြစ်ပြီး ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း၊ စက်ကိရိယာပစ္စည်း၊ မော်တော်ကား၊ ဓါတ်ခွဲခန်းသုံးပစ္စည်း ကိရိယာများ၊ တန်ဘိုး အမေရိကန် ဒေါ်လာ ၁၈.၅၅၃ သန်း ကို ပြည်ပမှ

တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုအမျိုးအစားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ကျပ်(သန်း) | US$(သန်း) | ကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၄၉၅.၇၀၉ | - | ၄၉၅.၇၀၉ |
| (ခ) | ဆောက်လုပ်ရေးပစ္စည်း | ၉၀၀.၀၀၀ | ၂.၉၀၂ | ၄,၆၇၃.၇၃၇ |
| (ဂ) | စက်ပစ္စည်းတန်ဖိုး ပမာဏ(M&E)(I) | ၃၅၉.၅၄၇ | ၇.၆၈၇ | ၁၀,၃၅၂.၇၂၉ |
| (ဃ) | စက်ပစ္စည်းတန်ဖိုး ပမာဏ(M&E)(II) | - | ၁၆.၀၀၃ | ၂၀,၈၀၅.၁၀၇ |
| (င) | ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်း | - | ၂.၀၀၀ | ၂,၆၀၃.၈၈၀ |
| (စ) | မော်တော်ကား | - | ၁.၂၇၀ | ၁,၆၅၁.၀၀၀ |
| (ဆ) | ဓါတ်ခွဲခန်းသုံးပစ္စည်းများ | - | ၁.၂၅၅ | ၁,၆၃၂.၅၃၀ |
| (ဇ) | အဆောက်အဦတန်ဖိုး | ၂၀,၇၇၅.၃၀၄ | - | ၂၀,၇၇၅.၃၀၄ |
| | စုစုပေါင်း | ၂၂,၅၃၀.၅၆၁ | ၃၁.၁၃၀ | ၆၃,၀၀၀.၀၀၀ |

**(အမေရိကန် ဒေါ်လာလျှင် ကျပ်၁၃၀၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။)**

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၁၂၁၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၁၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှာ ကျန်းမာရေးဆိုင်ရာ စစ်ဆေးမှုများ ပြုလုပ်ပေးခြင်း၊ ကျွမ်းကျင်ဝန်ထမ်း များဖြင့် ရောဂါရှာဖွေခြင်း၊ လိုအပ်သော ဆေးဝါးကုသမှုပေးခြင်း စသည့် ပုဂ္ဂလိကဆေးရုံ ဝန်ဆောင်မှု လုပ်ငန်းနှင့် ကျန်းမာရေးဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်းများ ကို ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်း ကုတင်(၇၀၀)ဆံ့ ဆေးရုံ၏ဆဌမနှစ် ဝန်ဆောင်နိုင်မည့် အရေအတွက် နှင့် နှုန်းထားများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| ဝန်ဆောင်မှုအမျိုးအစား | အရေအတွက် | နှုန်းထား(ကျပ်) |
|---|---|---|
| Emergency | ၂၀,၉၀၀ | ၁၅,၀၀၀ |
| MRI | ၄,၂၀၀ | ၁၇၀,၀၀၀ |
| CT | ၉,၀၀၀ | ၈၀,၀၀၀ |
| X-Ray(2) | ၂၄,၀၉၀ | ၁၂,၀၀၀ |
| Dexa Scan | ၃,၀၀၀ | ၂၅,၀၀၀ |

| | | |
|---|---|---|
| Mammogram | ၃,၀၀၀ | ၂၂,၀၀၀ |
| USG(2) | ၁၉,၈၀၀ | ၇,၀၀၀ |
| ECG(2) | ၃၉,၀၀၀ | ၄,၅၀၀ |
| ECHO | ၈,၇၀၀ | ၁၅,၀၀၀ |
| Stress Test | ၄,၅၀၀ | ၇,၀၀၀ |
| Dental CT | ၂,၄၀၀ | ၅၀,၀၀၀ |
| Outpatient Clinics | ၇၆၆,၂၀၀ | ၄,၅၀၀ |
| ENT Clinics | ၁၀,၅၀၀ | ၇,၀၀၀ |
| Dental Clinic | ၁၀,၅၀၀ | ၇,၀၀၀ |
| Eye Clinic | ၁၉,၈၀၀ | ၆,၀၀၀ |
| Skin | ၈,၇၀၀ | ၁၅,၀၀၀ |
| Rehabilitation | ၁၂,၀၀၀ | ၇,၀၀၀ |
| Endoscopy Suite | ၄,၅၀၀ | ၅၀,၀၀၀ |
| Dialysis Center | ၁၄,၆၀၀ | ၃၀,၀၀၀ |
| Oncology Center | ၁၀,၅၈၅ | ၁၀,၀၀၀ |
| Linear Accelerator | ၇,၂၀၀ | ၁၃၀,၀၀၀ |
| OT | ၃၇,၅၀၀ | ၉၀,၀၀၀ |
| Birth Unit | ၂,၇၀၀ | ၄၀,၀၀၀ |
| Catheterization | ၁,၈၀၀ | ၁,၃၀၀,၀၀၀ |
| Lithotripsy Suite | ၂,၄၀၀ | ၁၅၀,၀၀၀ |
| Intensive Care Unit | ၁၃,၁၄၀ | ၉၀,၀၀၀ |
| Cardiac Care Unit | ၇,၆၆၅ | ၇၀,၀၀၀ |
| High Dependency | ၅,၁၁၀ | ၄၀,၀၀၀ |
| LAB SAMPLE | ၁,၆၄၂,၅၀၀ | ၅,၀၀၀ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက်တွင် ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၈,၃၅၇.၁၈ |
| (ခ) | အသုံးစရိတ် | ၂၂,၉၁၇.၃၈ |
| (ဂ) | အသားတင်အမြတ် | ၁၅,၄၃၉.၈၀ |

၁၀။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် ၆နှစ် မြောက်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၅,၁၄၆.၆၀ သန်း ဖြစ်ပါသည်။ အရင်းကြေကာလမှာ ၅နှစ်၁လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၈% ဖြစ်ပါ သည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါ သည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ် ၊ ကြည့်မြင်တိုင် ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ယုဇနလမ်း၊ အမှတ်(၃)၊ (၈)ထပ်တိုက်၊ အမှတ်(F)တွင် Grand Specialist Hospital အမည်ဖြင့် ပုဂ္ဂလိကဆေးရုံလုပ်ငန်း ဆောင်ရွက်လိုခြင်းအပေါ် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ လူမှုရေးဝန်ကြီးအား ပြန်လည်စိစစ်ဆောင်ရွက်ပြီးဖြစ်၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံ ဆောင်ရွက်မှု(Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environ -mental Examination-IEE)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းဆစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်၊ အဆိုပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်၊ ရေးဆိုးစီမံခန့်ခွဲမှုအစီအစဥ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဥ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဥ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရန်နှင့် သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရ

အဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ သဘောထားများရယူ ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန ၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားဖြစ်ကြောင်းနှင့် (Initial Environmental Examination-IEE) and (Environmental Management Plan-EMP) အား Green Enviro Services Ltd နှင့် အပ်နှံဆောင်ရွက်လျက်ရှိကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ခ**

(ဂ) **ကျန်းမာရေးဝန်ကြီးဌာနမှ** ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ် ၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ယုဇနလမ်း၊ အမှတ်(၃)၊ (၈)ထပ်တိုက်၊ အမှတ်(F)တွင် Grand Specialist Hospital အမည်ဖြင့် ပုဂ္ဂလိကဆေးရုံလုပ်ငန်း ဆောင်ရွက်လိုခြင်းအပေါ် ကျန်းမာရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ- ဂ**

**(ဃ) ဆောက်လုပ်ရေးဝန်ကြီးဌာန**

(၁) မြို့ပြစီမံကိန်း၏ Urban Guideline အရ ကြည့်မြင်တိုင်ကမ်းနားလမ်းမကြီးမှ အဆောက်အဦအကွာအဝေး Set back မှာ အနည်းဆုံး(၁၂)ပေအကွာတွင် ထားရှိရန်၊

(၂) ဆေးရုံအတွက်အသုံးပြုမည့် ကားပါကင်နေရာအား အခြားလုပ်ငန်းများသို့ ပြောင်းလဲ အသုံးပြုခြင်း ခွင့်မပြုရန်၊

(၃) အဆိုပြုဆေးရုံအတွက် ပြင်ဆင်ဆောက်လုပ်ခြင်းလုပ်ငန်းများကို ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၏ စည်းမျဉ်းစည်းကမ်းနည်း ဥပဒေများနှင့်အညီ ဆောင်ရွက်ရန် နှင့် အင်ဂျင်နီယာဌာန(အဆောက်အအုံ)၏ ခွင့်ပြုချက်ရယူရန်၊

(၄) အဆိုပြုဆေးရုံသည် ကျန်းမာရေးဝန်ကြီးဌာန၏ သတ်မှတ်စံချိန်စံညွှန်းများ နှင့် ကိုက်ညီခြင်း ရှိမရှိကို ဆန်းစစ်ပြီးမှသာ ဆောင်ရွက်ရန်။

(ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။) **နောက်ဆက်တွဲ - ဃ**

၁၂။ ငွေကြေးအထောက်အထားအဖြစ် ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်ကုမ္ပဏီ အမည်ဖြင့် (၇-၃-၂၀၁၆) ရက်စွဲဖြင့် ဧရာဝတီဘဏ်၌ ကျပ် ၃,၁၄၆,၅၀၀.၇၃ ရှိကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၀ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြလာပါသည်။

၁၄။ ဝန်ထမ်းများ၏ လုပ်ခလစာဝင်ငွေအတွက် အခွန်ထမ်းဆောင်မည်ဖြစ်ကြောင်း၊ အလုပ်သမား သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး အစီအစဉ်၊ မီးဘေး လုံခြုံရေးဆောင်ရွက်မည့်

ဝန်ခံကတိပြုစာ၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းလည်ပတ်မှုမှ ရရှိမည်ဟု ခန့်မှန်းထားသည့် အသားတင် အမြတ်ငွေမှ ၂ % ကို ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုလုပ်ငန်း အစီအစဉ်များတွင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုလုပ်ငန်းအား ၂၀၁၆ ခုနှစ် မတ်လ ၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၁/၂၀၁၆ ) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ဤလုပ်ငန်းသည် ကျန်းမာရေးဝန်ဆောင်မှု လုပ်ငန်းဖြစ်သောကြောင့် မြန်မာနိုင်ငံ တွင် ဤရင်းနှီးမြှုပ်နှံမှုကို လက်ခံမည်ဆိုပါက အလုပ်အကိုင် အခွင့်အလမ်းရရှိမည့် ဖြစ်သည့်အပြင် ပြည်သူကျန်းမာရေးအတွက် အရည်အသွေး ပြည့်ဝစွာဖြင့် ဝန်ဆောင်မှု ပေးနိုင်မည်ဖြစ်ကြောင်း သုံးသပ်ရပါသည်။

(ခ) ဆေးကုသရေးလုပ်ငန်း ပါဝင်သောကြောင့် လုပ်ငန်းလည်ပတ်ချိန်တွင် ဓါတ်ခွဲခန်း၊ အခြားသွေးနှင့်ဆက်စပ်သော အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ် အရည်များအား စနစ်တကျစွန့်ပစ်ခြင်းမပြုပါကအန္တရာယ်ဆိုးများထွက်ရှိနိုင်ခြင်း၊ ရောဂါ များပြန့်ပွားကူးစက်နိုင်ခြင်း ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ် စေနိုင်၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနနှင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအတိုင်း တိကျစွာလိုက်နာ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အောက်ပါ ကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်းများ အား ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

| **စဉ်** | **ကုမ္ပဏီအမည်** | **ခွင့်ပြုမိန့် အမှတ် / ရက်စွဲ** | **လုပ်ငန်းအမျိုး အစား** | **တည်နေရာ** | **ရင်းနှီး မြှုပ်နှံမှု ပုံစံ** |
|---|---|---|---|---|---|
| ၁ | Five Oceans Services Ltd(သမုဒ္ဒရာ ငါးစင်း ဝန် ဆောင်မှု လီမိတက်) | မနသ- ၇၉၄/၂၀၁၁ (၂၄-၂-၂၀၁၁) | နိုင်ငံတကာ အဆင့်မီ မြို့တော် ဆေးရုံ နှင့် ဆက်စပ် သောဆေးကု သမှုဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်း | အကွက်အမှတ် (မ-၂၂)၊ ဦးပိုင် အမှတ် (၃၅)၊ ( ၆၅)လမ်းနှင့် (၆၆)လမ်းကြား၊ အကွက်အမှတ် (ဓ-၁၀)၊ဦးပိုင် အမှတ်(၁၁-က) နှင့်(၁၃-က) သိပ္ပံလမ်း၊ | **မြန်မာ နိုင်ငံ သား** |

| စဉ် | ကုမ္ပဏီအမည် | ခွင့်ပြုမိန့် အမှတ် / ရက်စွဲ | လုပ်ငန်းအမျိုးအစား | တည်နေရာ | ရင်းနှီးမြှုပ်နှံမှုပုံစံ |
|---|---|---|---|---|---|
| | | | | မဟာမြိုင်(၁)ရပ်ကွက်၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ | |
| ၂ | Fourteen Star Network Dawei Co., Ltd.(ကြယ်တစ်ဆယ့်လေးလုံးကွန်ယက်ထားဝယ် ကုမ္ပဏီလီမိတက်) | မနသ-၁၀၀၁/၂၀၁၄ (၃၁-၁၀-၁၄) | BOTစနစ်ဖြင့်ကုတင် ၅၀ ဆံ့ ပုဂ္ဂလိကဆေးရုံတည်ဆောက်၍ ဆေးရုံဝန်ဆောင်မှု လုပ်ငန်း | တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ် မြို့၊ ဆန်းချိရပ်ကွက်၊ ကမြောကင်းလမ်း ဦးပိုင်အမှတ် (၉၂၂)၊ အကွက်အမှတ်- ၂၄ ရှိ မြေဧရိယာ ၂.၀၀ဧက | မြန်မာနိုင်ငံသား |
| ၃ | Botahtaung Health Care Company Limited (ဗိုလ်တထောင်ဟဲ(သ်)ကဲ ကုမ္ပဏီလီမိတက် | မနသ-၁၁၆၉/၂၀၁၆ (၂၆-၃-၁၆) | Hospital, Hospital Suites, Hospital Service Apartment Retail (Health& Lifestyle) ဝန်ဆောင်မှု လုပ်ငန်း | ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ်၊ မြေဧရိယာ (၃.၅၁)ဧကအနက် (၁.၉၃၁) ဧက | မြန်မာနိုင်ငံသား |

**ဆုံးဖြတ်ရန်အချက်**

၁၇။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက် မှ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ယုဇနလမ်း၊ အမှတ်(၃)၊ (၈) ထပ်တိုက် အမှတ်(F) ရှိ ၂၀၅, ၀၅၁. ၇၅ စတုရန်းပေ ပေါ်တွင် Grand Specialist Hospital အမည်ဖြင့် ခုတင်(၇၀၀)ဆံ့ ပုဂ္ဂလိကဆေးရုံ ဝန်ဆောင်မှု လုပ်ငန်းအား

မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းကိုစွန့်စပ်လျှဉ်း၍ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးအစိုးရအဖွဲ့ စာအမှတ် ၂၂၀၂ ရက်စွဲ ၁၁.၁၁.၁၆ ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၄ / ၈ - ၂ (၁၅) / လူမှု
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်မှ ရင်းနှီးမြှုပ်နှံသည့် Grand Hantha Hospital အား ခွင့်ပြုပေးနိုင်ပါရန် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်၏ ၁၄ . ၆ . ၂၀၁၆ ရက်စွဲပါတင်ပြစာ

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် ယုဇနဆောက်လုပ်ရေးတို့ ပူးပေါင်းဆောင်ရွက်ခဲ့သည့် ကမာရွတ်မြို့နယ် Hiway Complex စီမံကိန်းရှိ အခန်းများအနက်မှ ဝယ်ယူခွင့်ရရှိသော Type(F) စီးပွားရေးအဆောက်အဦအား ခေတ်မီဆေးရုံတစ်ခု ပေါ်ထွန်းလာစေရန် ရည်ရွယ်၍ ယုဇနဆောက်လုပ်ရေးကုမ္ပဏီနှင့် ပူးပေါင်းတည်ဆောက်လျက်ရှိပြီးတိုင်းကျန်းမာရေးဦးစီးဌာနမှ သတ်မှတ်ချက်နှင့်ကိုက်ညီသဖြင့် ဆေးရုံတည်ဆောက်ပြီးပါက လိုင်စင်ထုတ်ပေးမည်ဖြစ်ကြောင်း၊ ဝယ်ယူခွင့်ရရှိသော (၈)ထပ်တိုက်အဆောက်အဦအား Grand Hantha Hospital အမည်ဖြင့် ပုဂ္ဂလိကဆေးရုံတည်ဆောက်နိုင်ရန် ၁. ၄. ၂၀၁၆ ရက်နေ့တွင် ထောက်ခံချက်များဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပေးအပ်ပြီးဖြစ်ကြောင်း၊ ၎င်း(၈)ထပ်တိုက်အဆောက်အဦအား Grand Hantha Hospital ပုဂ္ဂလိကဆေးရုံအား ဆောက်လုပ်ခွင့်ပြုပါရန် သက်ဆိုင်ရာဌာနများ၏ ထောက်ခံချက်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁) ပုဒ်မ(၂၀)အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များခံစားခွင့်ပြုပါရန်နှင့် ခွင့်ပြုပေးပါရန် ဦးဌေးမြင့်(ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)နှင့် ဒေါက်တာဖြိုးမြတ်ခိုင်(ဂရန်း(ဒ်) ဟံသာ ကုမ္ပဏီလီမိတက်)မှ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၄ . ၇. ၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၅/ ၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၀)အရ **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ လူမှုရေးဝန်ကြီးအား ပြန်လည်စိစစ်စေခဲ့ရာ စိစစ်ဆောင်ရွက်ပြီးဖြစ်ပါ၍ ကန့်ကွက်ရန်မရှိပါကြောင်း** တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နိုင်ငံလင်း၊ တိုင်းဒေသကြီးလူမှုရေးဝန်ကြီး)

မိတ္တူကို
တိုင်းဒေသကြီးလူမှုရေးဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကမာရွတ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

နောက်ဆက်တွဲ-ခ

My-312
28-3-16



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၆၁( ၁၁၈/၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် မတ် လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Grand Hantha Company Limited မှကုတင်(၇၀၀)ဆံ့ ဆေးရုံ တည်ဆောက်၍ ဆေးကုသမှုနှင့်ဆေးဘက်ဆိုင်ရာဝန်ဆောင်မှု လုပ်ငန်း အမျိုးမျိုးအားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-၀၁၂/ ၂၀၁၆(၂၃၃)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနထံမှယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်ဝယ်ယူထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့်နာနတ်တောလမ်းထောင့်၊ ယုဇနလမ်းအမှတ်(၃)၊ (၈)ထပ်တိုက်အမှတ်(F)ရှိ ၂၀၅၀၅၁.၇၅စတုရန်းပေပေါ်တွင် Grand Specialist Hospital အမည်ဖြင့် ခုတင်(၇၀၀)ဆံ့ ဆေးရုံတည်ဆောက်၍ ဆေးကုသမှုနှင့်ဆေးဘက်ဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုးအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် Grand Hantha Company Limited မှ အဆိုပြုတင်ပြလာခြင်းပေါ် စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility–CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုမှကာကွယ်ရန် ဆေးရုံ၏လုပ်ငန်းသဘာဝအရ ထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်းများ၊ အညစ်အကြေးများ၊ အမှိုက်မျိုးစုံနှင့်စားကြွင်းစားကျန်များ၊ ညစ်ညမ်းရေများအား ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Grand Hantha Company Limited မှ ဆေးရုံတည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းခြင်း၊ ဆေးရုံလုပ်ငန်းများဆောင်ရွက်ချိန်တွင် ထွက်ရှိလာမည့်စွန့်ပစ်ဆေးပစ္စည်းများ၊ ဓာတုဗေဒပိုးသတ်ဆေးရည်များ၊ ခွဲစိတ်ပြီးစွန့်ပစ်မည့်လူ့ခန္ဓာကိုယ်အစိတ်အပိုင်းများကြောင့် ပတ်ဝန်းကျင် ရေထု၊ လေထု၊ မြေထုညစ်ညမ်းခြင်းနှင့်ပတ်ဝန်းကျင်နေအများပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Grand Hantha Company Limited မှ ကုတင်(၇၀၀)ဆံ့ ဆေးရုံတည်ဆောက်ပြီး ဆေးကုသမှုနှင့်ဆေးဘက်ဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုးအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း**( Initial

Environmental Examination–IEE)ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ ရေဆိုးစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Manangement Plan – EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

M4 - 804
28.3.16

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

နောက်ဆက်တွဲ-ဂ

ဝန်ကြီးရုံး

စာအမှတ်၊ ၈ မခ(က)၂၀၁၆/ ၄၅၇၄

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ( ၂၄ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅-၃-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက -၅(အ)/၀၁၂/၂၀၁၆(၂၃၆)

124.776
25.3.2016

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ Grand Specialist Hospital အမည်ဖြင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်မှ အဆိုပြုတင်ပြခဲ့ပါသဖြင့် သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ (၂၄-၃-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာဗဟိုအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂/၂၀၁၆)အရ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ယုဇနလမ်း၊ အမှတ်(၃)၊ (၈)ထပ်တိုက်၊ အမှတ်(F)တွင် Grand Hantha Hospital အမည်ဖြင့် ပုဂ္ဂလိကဆေးရုံလုပ်ငန်း ဆောင်ရွက်လိုခြင်းအပေါ် ကန့်ကွက်ရန်မရှိပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန
- ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်

နောက်ဆက်တွဲ-ဃ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၂၁/ ဌာနခွဲ-၂/MIC/၂၀၁၆(စီ ၅၀၅ )
ရက် စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် မတ်လ (၁၅)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၅/(အ)/မ-၀၁၂/၂၀၁၆(၂၃၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့် ၊ယုဇနလမ်း၊အမှတ်(၃)၊ (၈)ထပ်တိုက် အမှတ်(F)အဆောက်အဦပေါ်တွင် Grand Specialist Hospital အမည်ဖြင့် ခုတင် (၇၀၀)ဆန့် ဆေးရုံအဖြစ် ဆေးကုသမှုနှင့်ဆေးဘက်ဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုးအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် Grand Hantha Company Limited မှ အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပြုတင်ပြလာသည့် Grand Specialist Hospital အမည်ဖြင့် ခုတင်(၇၀၀)ဆန့် ဆေးရုံအဖြစ် ပြောင်းလဲဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ စိစစ်လေ့လာခဲ့ရာတွင် အောက်ဖော်ပြပါ အချက်များ တွေ့ရှိရပါသည် -

(က) အဆိုပြု ဆေးရုံအဆောက်အဦမှာ မူလက လူနေနှင့်စီးပွားရေးအသုံးပြုမှု မှ ဆေးရုံအဖြစ် ပြောင်းလဲအသုံးပြုခြင်းဖြစ်ပြီး အဆောက်အဦ Structure မှာ မူလက RC ကွန်ကရီအဆောက်အဦဖြစ်ပြီး ယင်းတွင် Steel Stucture များ ထပ်မံတိုးချဲ့ပြီး ဆောက်လုပ်မည့် ပုံစံကို တင်ပြထားပါသည်။

(ခ) အဆောက်အဦ၏ Layout Plan အား ဆန်းစစ်ရာတွင် အဆိုပြုဆေးရုံ၏ အဆောက်အဦနံရံသည် ကြည့်မြင်တိုင်ကမ်းနားလမ်း ၊ နာနတ်တောလမ်းတို့၏ လမ်းနယ်နိမိတ် နှင့်(၄)ပေခန့် အကွာတွေ့ရှိရပါသည်။

(ဂ) ဆေးရုံအတွက် လိုအပ်သည့် မော်တော်ယာဥ်ရပ်နားရန် နေရာအား ဆေးရုံနှင့် တွဲလျက် မြေကွက်တွင် အသုံးပြုရန် တင်ပြထားပါသည်။

၃။ စိစစ်လေ့လာချက်များအရ ဖြည့်စွက်ဆောင်ရွက်သင့်သည့် ကိစ္စရပ်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) မြို့ပြစီမံကိန်း၏ Urban Guideline အရ ကြည့်မြင်တိုင်ကမ်းနားလမ်းမကြီးမှ အဆောက်အဦအကွာအဝေး Set back မှာ အနည်းဆုံး(၁၂)ပေအကွာတွင် ထားရှိရန် လိုအပ်ပါမည်။

(ခ) ဆေးရုံအတွက် အသုံးပြုမည့် ကားပါကင်နေရာအား အခြားလုပ်ငန်းများသို့ ပြောင်းလဲ အသုံးပြုခြင်း ခွင့်မပြုရန် လိုအပ်ပါမည်။

(ဂ) အဆိုပြုဆေးရုံအတွက် ပြင်ဆင်ဆောက်လုပ်ခြင်းလုပ်ငန်းများကို ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၏ စည်းမျဉ်းစည်းကမ်း နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရန်နှင့် အင်ဂျင်နီယာဌာန (အဆောက်အအုံ)၏ ခွင့်ပြုချက် ရယူရန် လိုအပ်ပါမည်။

(ဃ) အဆိုပြုဆေးရုံသည် ကျန်းမာရေးဝန်ကြီးဌာန၏ သတ်မှတ်စံချိန်စံညွှန်းများနှင့် ကိုက်ညီခြင်း ရှိ/မရှိကို ဆန်းစစ်ပြီးမှသာ ခွင့်ပြုသင့်ပါသည်။

၄။ သို့ဖြစ်ပါ၍ Grand Hantha Company Limited မှ Grand Specialist Hospital အမည်ဖြင့် ခုတင် (၇၀၀)ဆန့် ဆေးရုံလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းနှင့် ပတ်သက်၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား စာပိုဒ် ၊ ၃ တွင် ဖော်ပြထားသည့်အတိုင်း ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၈/၂/၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့် ၊ ဒုတိယဝန်ကြီး

၂၅/၃

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ဂရန်း(ဒ်) ဟံသာ ကုမ္ပဏီ လီမိတက်

**GRAND HANTHA COMPANY LIMITED**

မှ

အမှတ်(၃)၊ ယုဇနလမ်း၊ ကြည့်မြင်တိုင်ကမ်းနားလမ်း နှင့်

နာနတ်တောလမ်းထောင့်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင်

တည်ရှိသော ယုဇနဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်မှ ပိုင်ဆိုင်သည့်

**(205,051.75Square-feet)** ရှိ (၈)ထပ်တိုက်၊ အမှတ်(**F**)တွင်

ခုတင် (၇၀၀)ဆန့် ပုဂ္ဂလိကဆေးရုံ လုပ်ငန်းအား ဆောင်ရွက်မည့်

"အဆိုပြုလွှာ တင်ပြချက်"



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၄ / ၈ - ၂ (၁၅) / လူမှု
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊အောက်တိုဘာလ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်မှ ရင်းနှီးမြှုပ်နှံသည့် **Grand Hantha Hospital** အား ခွင့်ပြုပေးနိုင်ပါရန် တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်၏ ၁၄ . ၆ . ၂၀၁၆ရက်စွဲပါတင်ပြစာ

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် ယုဇနဆောက်လုပ်ရေးတို့ ပူးပေါင်းဆောင်ရွက်ခဲ့သည့် ကမာရွတ်မြို့နယ် Hiway Complex စီမံကိန်းရှိ အခန်းများအနက်မှ ဝယ်ယူခွင့်ရရှိသော Type(F) စီးပွားရေးအဆောက်အဦအား ခေတ်မီဆေးရုံတစ်ခု ပေါ်ထွန်းလာစေရန် ရည်ရွယ်၍ ယုဇနဆောက်လုပ်ရေးကုမ္ပဏီနှင့် ပူးပေါင်းတည်ဆောက်လျက်ရှိပြီးတိုင်းကျန်းမာရေးဦးစီးဌာနမှ သတ်မှတ်ချက်နှင့်ကိုက်ညီသဖြင့် ဆေးရုံတည်ဆောက်ပြီးပါက လိုင်စင်ထုတ်ပေးမည်ဖြစ်ကြောင်း၊ ဝယ်ယူခွင့်ရရှိသော (၈)ထပ်တိုက်အဆောက်အဦအား Grand Hantha Hospital အမည်ဖြင့် ပုဂ္ဂလိကဆေးရုံတည်ဆောက်နိုင်ရန် ၁. ၄. ၂၀၁၆ ရက်နေ့တွင် ထောက်ခံချက်များဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပေးအပ်ပြီးဖြစ်ကြောင်း၊ ၎င်း(၈)ထပ်တိုက်အဆောက်အဦအား Grand Hantha Hospital ပုဂ္ဂလိကဆေးရုံအား ဆောက်လုပ်ခွင့်ပြုပါရန် သက်ဆိုင်ရာဌာနများ၏ ထောက်ခံချက်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁) ပုဒ်မ(၂၀)အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များခံစားခွင့်ပြုပါရန်နှင့် ခွင့်ပြုပေးပါရန် ဦးငွေးမြင့်(ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)နှင့် ဒေါက်တာဖြိုးမြတ်ခိုင်(ဂရန်း(ဒ်) ဟံသာ ကုမ္ပဏီလီမိတက်)မှ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၄ • ၇• ၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၅/ ၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၀)အရ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ လူမှုရေးဝန်ကြီးအား ပြန်လည်စိစစ်စေခဲ့ရာ စိစစ်ဆောင်ရွက်ပြီးဖြစ်ပါ၍ ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နိုင်ငံလင်း၊ တိုင်းဒေသကြီးလူမှုရေးဝန်ကြီး)

မိတ္တူကို
တိုင်းဒေသကြီးလူမှုရေးဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကမာရွတ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၂၁/ ဌာနခွဲ-၂/MIC/၂၀၁၆(စီ ၅၀၅ )

ရက် စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် မတ်လ (၁၅)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၅/(အ)/မ-၀၁၂/၂၀၁၆(၂၃၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့် ၊ယုဇနလမ်း၊အမှတ်(၃)၊ (စ)ထပ်တိုက် အမှတ်(F)အဆောက်အဦပေါ်တွင် Grand Specialist Hospital အမည်ဖြင့် ခုတင် (၇၀၀)ဆန့် ဆေးရုံအဖြစ် ဆေးကုသမှုနှင့်ဆေးဘက်ဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုးအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် Grand Hantha Company Limited မှ အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပြုတင်ပြလာသည့် Grand Specialist Hospital အမည်ဖြင့် ခုတင်(၇၀၀)ဆန့် ဆေးရုံအဖြစ် ပြောင်းလဲဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ စိစစ်လေ့လာခဲ့ရာတွင် အောက်ဖော်ပြပါ အချက်များ တွေ့ရှိရပါသည် -

(က) အဆိုပြု ဆေးရုံအဆောက်အဦမှာ မူလက လူနေနှင့်စီးပွားရေးအသုံးပြုမှု မှ ဆေးရုံအဖြစ် ပြောင်းလဲအသုံးပြုခြင်းဖြစ်ပြီး အဆောက်အဦ Structure မှာ မူလက RC ကွန်ကရီအဆောက်အဦဖြစ်ပြီး ယင်းတွင် Steel Stucture များ ထပ်မံတိုးချဲ့ပြီး ဆောက်လုပ်မည့် ပုံစံကို တင်ပြထားပါသည်။

(ခ) အဆောက်အဦ၏ Layout Plan အား ဆန်းစစ်ရာတွင် အဆိုပြုဆေးရုံ၏ အဆောက်အဦနံရံသည် ကြည့်မြင်တိုင်ကမ်းနားလမ်း ၊ နာနတ်တောလမ်းတို့၏ လမ်းနယ်နိမိတ် နှင့်(၄)ပေခန့် အကွာတွေ့ရှိရပါသည်။

(ဂ) ဆေးရုံအတွက် လိုအပ်သည့် မော်တော်ယာဉ်ရပ်နားရန် နေရာအား ဆေးရုံနှင့် တွဲလျက် မြေကွက်တွင် အသုံးပြုရန် တင်ပြထားပါသည်။

MIC(advice) PRS ၅၇၅ ၃၀-၃-၁၆

၃။ စိစစ်လေ့လာချက်များအရ ဖြည့်စွက်ဆောင်ရွက်သင့်သည့် ကိစ္စရပ်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) မြို့ပြစီမံကိန်း၏ Urban Guideline အရ ကြည့်မြင်တိုင်ကမ်းနားလမ်းမကြီးမှ အဆောက်အဦအကွာအဝေး Set back မှာ အနည်းဆုံး(၁၂)ပေအကွာတွင်ထားရှိရန် လိုအပ်ပါမည်။

(ခ) ဆေးရုံအတွက် အသုံးပြုမည့် ကားပါကင်နေရာအား အခြားလုပ်ငန်းများသို့ ပြောင်းလဲအသုံးပြုခြင်း ခွင့်မပြုရန် လိုအပ်ပါမည်။

(ဂ) အဆိုပြုဆေးရုံအတွက် ပြင်ဆင်ဆောက်လုပ်ခြင်းလုပ်ငန်းများကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ စည်းမျဉ်းစည်းကမ်း နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရန်နှင့် အင်ဂျင်နီယာဌာန (အဆောက်အအုံ)၏ ခွင့်ပြုချက် ရယူရန် လိုအပ်ပါမည်။

(ဃ) အဆိုပြုဆေးရုံသည် ကျန်းမာရေးဝန်ကြီးဌာန၏ သတ်မှတ်စံချိန်စံညွှန်းများနှင့် ကိုက်ညီခြင်း ရှိ/မရှိကို ဆန်းစစ်ပြီးမှသာ ခွင့်ပြုသင့်ပါသည်။

၄။ သို့ဖြစ်ပါ၍ Grand Hantha Company Limited မှ Grand Specialist Hospital အမည်ဖြင့် ခုတင် (၇၀၀)ဆန့် ဆေးရုံလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းနှင့် ပတ်သက်၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား စာပိုဒ် ၊ ၃ တွင် ဖော်ပြထားသည့်အတိုင်း ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၈/၂/၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့်၊ ဒုတိယဝန်ကြီး

၂၅/၃

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ဆောက်လုပ်ရေးဝန်ကြီးဌာန

## မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

## နေပြည်တော်

စာအမှတ်၊ နပတ/(မြို့/ရာ)/အရဖ/၂၀၁၆(၄၃၃)

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ ၅ ရက်


သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ငွေကြေပြီးကြောင်း နှင့် မြေငှားဂရန်လျှောက်ထားသည်မှာ မှန်ကန်ပါကြောင်း ထောက်ခံချက် တင်ပြခြင်း

၁။ ကမာရွတ်မြို့နယ် ၊ Hiway Complex အိမ်ရာစီမံကိန်းကို ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန နှင့် ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်တို့ အကျိုးတူပူးပေါင်း ဆောင်ရွက်ခဲ့ပြီး နိုင်ငံတော်မှရရှိသည့်(၄၀%) အဆောက်အဦများကို ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်မှ သတ်မှတ်ဈေးနှုန်းဖြင့် ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်သို့ ဝယ်ယူခွင့်ပြုခဲ့ပါသည်။

၂။ ဝယ်ယူခွင့်ရရှိခဲ့သော အဆောက်အဦများတွင် (၈)ထပ် တိုက်အမှတ်(F) ပါဝင်ပြီး အဆိုပါအဆောက်အဦကို ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ Grand Hantha Hospital အမည်ဖြင့် ပုဂ္ဂလိကဆေးရုံလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ ယခုအခါ Hiway Complex အိမ်ရာစီမံကိန်းကို ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ငွေအကြေပေးသွင်းပြီးဖြစ်ပါကြောင်း နှင့် ပုဂ္ဂလိကဆေးရုံပြုလုပ်မည့် မြေနေရာအား မြေငှားဂရန်လျှောက်ထားဆဲဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၅/၄

(မင်းထိန်)

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို-

- ညွှန်ကြားရေးမှူး(အိမ်ရာဖွံ့ဖြိုးရေး) ၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၈ မခ(က)၂၀၁၆/ ၄၅၇၄

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ( ၂၄ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅-၃-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက -၅(အ)/၀၁၂/၂၀၁၆(၂၃၆)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ Grand Specialist Hospital အမည်ဖြင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်မှ အဆိုပြုတင်ပြခဲ့ပါသဖြင့် သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ (၂၄-၃-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာဗဟိုအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂/၂၀၁၆)အရ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ယုဇနလမ်း၊ အမှတ်(၃)၊ (၈)ထပ်တိုက်၊ အမှတ်(F)တွင် Grand Hantha Hospital အမည်ဖြင့် ပုဂ္ဂလိကဆေးရုံလုပ်ငန်း ဆောင်ရွက်လိုခြင်းအပေါ် ကန့်ကွက်ရန်မရှိပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန
- ဂရန်း(ဒ်)ဟံသာကုမ္ပဏီလီမိတက်

# GRAND HANTHA COMPANY LIMITED

**No.3, Yuzana Street, Corner of Kyeemyindaing Kannar Road & Narnattaw Road,**
**Kamayut Township , Yangon. Myanmar**
**Tel(95-1) 540748, 540749, Fax (95-1)540751**


---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ၊ (၂၅)ရက်။

အကြောင်းအရာ။ ။ <u>Grand Hantha Company Limited အနေဖြင့် သဘောထားမှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ပြီးဖြစ်ပါကြောင်း တင်ပြခြင်း။</u>

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၂-၃-၂၀၁၆) ရက်နေ့ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၂/၂၀၁၆ (၂၁၁)။

အထက်ရည်ညွှန်းချက်ပါစာအရ ကျွန်မတို့ Grand Hantha Company Limited သည် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ယုဇနဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် အနေဖြင့် ဝယ်ယူထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ကြည့်မြင်တိုင် ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ယုဇနလမ်း၊ အမှတ်(၃)၊ (၈) ထပ်တိုက် အမှတ်(F) ရှိ ၂၀၅,၀၅၁.၇၅ စတုရန်းပေပေါ်တွင် Grand Specialist Hospital အမည်ဖြင့် ခုတင် (၇၀၀) ဆံ့ ဆေးရုံကို တည်ဆောက်၍ ဆေးကုသမှု နှင့် ဆေးဘက်ဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုးအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ ဆုံးဖြတ်ခဲ့သည့်အတိုင်း အောက်ဖော်ပြပါတို့ကို လိုက်နာဆောင်ရွက်ထားပါသည်။

(က) လုပ်ငန်းအမည်အား ကျန်းမာရေးဝန်ကြီးဌာနမှ ညွှန်ကြားသည့်အတိုင်း ပုဂ္ဂလိကဆေးရုံလုပ်ငန်းဟု ပြောင်းလဲပြင်ဆင်ထားပါသည်။

(ခ) စက်ပစ္စည်းများအား ပြည်တွင်းဝယ်နှင့် ပြည်ပဝယ်ကို ခွဲခြားဖော်ပြထားပါသည်။

(ဂ) ပြည်ပမှ တင်သွင်းမည့် မော်တော်ယာဉ် အမျိုးအစားများကိုလည်း ဖော်ပြထားပါသည်။

သို့ဖြစ်ပါ၍ အထက်ပါပြင်ဆင်ဆောင်ရွက်ရန်ရှိသည်များကို လိုက်နာဆောင်ရွက်ခဲ့ပြီးဖြစ်ပါ၍ ကျွန်မတို့၏ လုပ်ငန်းအဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့ ပြန်လည်ပြင်ဆင် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်ခင်ဌေးလှိုင်
ဒါရိုက်တာ
Grand Hantha Company Limited

# GRAND HANTHA COMPANY LIMITED

No.3, Yuzana Street, Corner of Kyeemyindaing Kannar Road & Narnattaw Road,
Kamayut Township , Yangon. Myanmar
Tel(95-1) 540748, 540749, Fax (95-1)540751

---

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ၊ (၂၅)ရက်။

အကြောင်းအရာ။ ။ **Grand Hantha Company Limited အနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ပါမည် ဖြစ်ပါကြောင်း တင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅-၃-၂၀၁၆)ရက်နေ့ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၂/၂၀၁၆ (၂၃၄)။

(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ (၂၈.၃.၂၀၁၆)ရက်နေ့ ရက်စွဲပါစာအမှတ်၊ ၂၁/ဌာနခွဲ-၂/ MIC/၂၀၁၆ (စီ၅၀၅)။

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄.၄.၂၀၁၆)ရက်နေ့ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၂/၂၀၁၆ (၂၄၅)။

အထက်ရည်ညွှန်းချက်ပါစာများအရ ကျွန်မတို့ Grand Hantha Company Limited အနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သဘောထားမှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်များကို အောက်ဖော်ပြပါအတိုင်း တင်ပြအပ်ပါသည်။

(က) မြို့ပြစီမံကိန်း၏ Urban Guideline အရ ကြည့်မြင်တိုင်ကမ်းနားလမ်းမကြီးမှ အဆောက်အဦ အကွာအဝေး Set back ကို အနည်းဆုံး (၁၂)ပေ အကွာတွင် ထားရှိဆောင်ရွက်ထားပြီး ဖြစ်ပါသည်။

(ခ) ဆေးရုံအတွက် အသုံးပြုမည့် ကားပါကင်နေရာအား အခြားလုပ်ငန်းများသို့ ပြောင်းလဲ၍ အသုံးမပြုပါ။

(ဂ) အဆိုပြုဆေးရုံအတွက် ပြင်ဆင်ဆောက်လုပ်ခြင်းလုပ်ငန်းများကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ စည်းမျဉ်းစည်းကမ်းဥပဒေများနှင့်အညီ ဆောင်ရွက်၍ အင်ဂျင်နီယာဌာန (အဆောက်အအုံ)၏ ခွင့်ပြုချက်ကိုလည်း ရယူဆောင်ရွက်ထားပြီး ဖြစ်ပါသည်။

(ဃ) ကျွန်မတို့ Grand Specialist Hospital ဆေးရုံအား ကျန်းမာရေးဝန်ကြီးဌာန၏ သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ ကိုက်ညီခြင်း ရှိ/မရှိ ကို ဆန်းစစ်မှု ခံယူပြီးမှ ဆောင်ရွက်ပါမည်။

လေးစားစွာဖြင့်

ဒေါ်ခင်ဌေးလင်း
ဒါရိုက်တာ
Grand Hantha Company Limited

# GRAND HANTHA COMPANY LIMITED

No.3, Yuzana Street, Corner of Kyeemyindaing Kannar Road & Narnattaw Road,
Kamayut Township , Yangon. Myanmar
Tel(95-1) 540748, 540749, Fax (95-1)540751

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ၊ (၂၅)ရက်။

အကြောင်းအရာ။ ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်များအား တင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅-၃-၂၀၁၆)ရက်နေ့ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၂/၂၀၁၆ (၂၃၃)။

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ (၂၈-၃-၂၀၁၆) ရက်နေ့ ရက်စွဲပါစာအမှတ်၊ ဂ၀၁/MIC(OSS)/၀၁(၁၁၈/၁၆) ။

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅-၄-၂၀၁၆)ရက်နေ့ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၂/၂၀၁၆ (၂၄၆)။

အထက်ရည်ညွှန်းချက်ပါစာများအရ ကျွန်မတို့ Grand Hantha Company Limited အနေဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ သဘောထားမှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်များကို အောက်ဖော်ပြပါအတိုင်း တင်ပြအပ်ပါသည်။

(က) Grand Specialist Hospital အမည်ဖြင့် အဆိုပြုထားသော ခုတင် (၇၀၀)ဆန့် ပုဂ္ဂလိကဆေးရုံ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုပါမည်။ လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂)%ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာဆောင်ရွက်ပါမည်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို လုပ်ဆောင်ရန်အတွက် Green Enviro Services Ltd. သို့ လုပ်ငန်းအပ်နှံထားပါသည်။ အစီရင်ခံစာရရှိပါက ဆက်လက်တင်ပြပါမည်။ Green Enviro Services Ltd. မှ ဆောင်ရွက်နေမှု အခြေအနေတင်ပြစာကိုလည်း ပူးတွဲ၍ တင်ပြအပ်ပါသည်။

# GRAND HANTHA COMPANY LIMITED

No.3, Yuzana Street, Corner of Kyeemyindaing Kannar Road & Narnattaw Road,
Kamayut Township , Yangon. Myanmar
Tel(95-1) 540748, 540749, Fax (95-1)540751

(ဂ) အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ် စေရေး (သို့) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်၊ ရေဆိုးစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်အတွက် Green Enviro Services Ltd. သို့ လုပ်ငန်းအပ်နှံပြီး ဆောင်ရွက်ထားပါသည်။ စီမံချက်ကိုရရှိပါက ဆက်လက်တင်ပြ၍ စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ပါမည်။

လေးစားစွာဖြင့်

ဒေါ်ခင်ဌေးလင်း
ဒါရိုက်တာ
Grand Hantha Company Limited

# "ဂရန်း(ဒ်) ဟံသာ ကုမ္ပဏီ လီမိတက်"

## ခုတင် (၇၀၀)ဆန့် ပုဂ္ဂလိကဆေးရုံ လုပ်ငန်းအား ဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခြင်း

**အညွှန်း**

| | | |
|---|---|---|
| ၁။ | ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည့်လုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြု တင်ပြစာ | |
| ၂။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားစာ | |
| ၃။ | မနသ ပုံစံ(၁) | |
| ၄။ | ကတိဝန်ခံချက်များ | |
| ၅။ | ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ် | |
| ၆။ | မီးဘေးကာကွယ်မှု အစီအစဉ် | |
| ၇။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု အစီအစဉ် | |
| ၈။ | လူမှုရေးအကျိုးပြုလုပ်ငန်းများအတွက် လျာထားသုံးစွဲမည့် အစီအစဉ် | |
| ၉။ | ဆောင်ရွက်မည့် ဆေးရုံ၊ ဆေးခန်းအား ပြင်ဆင်ထားမည့် ပုံစံများ၊ | |
| ၁၀။ | အစုရှယ်ယာရှင်များနှင့် ဒါရိုက်တာများစာရင်း | နောက်ဆက်တွဲ – (၁) |
| ၁၁။ | ဆောင်ရွက်မည့်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုစာရင်းများ အစီအစဉ် | နောက်ဆက်တွဲ– (၂) မှ နောက်ဆက်တွဲ– (၁၉) |
| ၁၂။ | အဆောက်အဉီဧရိယာ (၂၀၅,၀၅၁.၇၅)စတုရန်းပေ အား ပိုင်ဆိုင်ကြောင်း စာရွက်စာတမ်း အထောက်အထားများ | နောက်ဆက်တွဲ– (၂၀) |
| ၁၃။ | ချေးငွေရယူမည့် စာရွက်စာတမ်း အထောက်အထားများ | နောက်ဆက်တွဲ – (၂၁) |
| ၁၄။ | ဘဏ္ဍာရေးအချက်အလက်များနှင့် အထောက်အထား စာရွက်စာတမ်းများ | နောက်ဆက်တွဲ – (၂၂) |
| ၁၅။ | ကုမ္ပဏီဆိုင်ရာ အထောက်အထား စာရွက်စာတမ်းများ | နောက်ဆက်တွဲ– (၂၃) |

# GRAND HANTHA COMPANY LIMITED

**No.3, Yuzana Street, Corner of Kyeemyindaing Kannar Road & Narnattaw Road,**
**Kamayut Township , Yangon. Myanmar**
**Tel(95-1) 540748, 540749, Fax (95-1)540751**

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ အောက်တိုဘာလ၊ (၂၅)ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>

ကျွန်မတို့ **ဂရန်း(ဒ်)ဟံသာ ကုမ္ပဏီ လီမိတက်(Grand Hantha Co., Ltd.)**သည် အမှတ်(၃)၊ ယုဇနလမ်း၊ ကြည့်မြင်တိုင်ကမ်းနားလမ်းနှင့် နာနတ်တောလမ်းထောင့်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် တည်ရှိသော ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်မှ ပိုင်ဆိုင်သည့် (205,051.75 Square-feet)ရှိ (၈)ထပ်တိုက် အမှတ်(F)တွင် အထူးကုဆေးခန်းများ၊ ရောဂါရှာဖွေရေးစင်တာ၊ ဆေးကုသမှုနှင့်သက်ဆိုင်သော ဓါတ်ခွဲခန်း၊ အရေးပေါ်ဌာန၊ ခွဲစိတ်ခန်း၊ သားဖွားခန်း၊ ခန္ဓာကိုယ်အတွင်း အစိတ်အပိုင်းများအား ခေတ်မီအဆင့်မြင့်ကိရိယာများဖြင့် ကြည့်ရှုစစ်ဆေးသော ဌာနများပါဝင်သည့် ခုတင် (၇၀၀)ဆန့် ပုဂ္ဂလိကဆေးရုံ လုပ်ငန်းအား ဆောင်ရွက်မည်ဖြစ်ပါသည်။ ဤအဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ အထက်ပါအဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုလုပ်ကိုင်မည့် အဆိုပြုချက်ကို တင်ပြ၊ ပေးပို့လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်ခင်ဌေးလှိုင်
ဒါရိုက်တာ
Grand Hantha Co., Ltd.

